ပုံစံ(မနသ-၂)

၁၀.၅.၂၀၀၆

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၆၆၅ / ၂၀၀၆ ။ ၂၀၀၆ ခုနှစ်၊ မေ လ ၁၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦး ကျော် ထွေး

(ခ) အဘအမည် ဦး အေး ဘေ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် မြန်မာ ၁၂/လမတ(နိုင်)၀၁၃၇၇၁

(ဃ) နေရပ်လိပ်စာ အမှတ်(၃၉)၊(၁၁)လမ်း၊လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ကျော်ထွေး နှင့်ရောင်းရင်းများ လီမိတက်(Kyaw Htay & Associates Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဝါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းနှင့် တန်(၂၀၀၀)ဆန့်အအေးခန်း စက်ရုံလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊စက်မှုဇုန်(၆) မြေကွက်အမှတ်(၉)၊ မြေကွက်အမှတ်(၃မီ)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၃၅၇.၇၆)သန်း(ကျပ်သန်းသုံးရာ ငါးဆယ့်ခုနစ်နှင့် ခုနစ်သိန်း၊ ခြောက်သောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၄ /၂၀၀၆ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၈ ခုနှစ်၊ ကဆုန်လဆန်း ၁၄ ရက်

(၂၀၀၆ ခုနှစ်၊ မေလ ၁၀ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.) မှ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ကမကထပြုသူ ဦးကျော်ဌေး အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၆)၊ မြေတိုင်းရပ်ကွက်အမှတ် (၉)၊ မြေကွက် အမှတ် (၃ဃ)ရှိ မြေ(၂.၀၂)ဧက (၈၁၇၄.၆၆ စတုရန်းမီတာ) တွင် ငါးပုဇွန် ပြုပြင် ထုတ်လုပ်ခြင်းနှင့် တန် (၂၀၀၀)ဆန့် အအေးခန်း စက်ရုံ လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၉-၁၂-၂၀၀၅)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄၇/၂၀၀၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်အစည်းအဝေးမှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၅-၁-၂၀၀၆) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၆) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ ခွင့်ပြုရန် သဘောတူ၍ (၁၂-၄-၂၀၀၆)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၂/၂၀၀၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.) အား ငါးပုဇွန်ပြုပြင် ထုတ်လုပ်ခြင်းနှင့် တန် (၂၀၀၀)ဆန့် အအေးခန်း စက်ရုံလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၆၆၇/၂၀၀၆ ကို ထုတ်ပေးလိုက်သည်။

၂။ ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှုလုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားလိုပါက ကော်မရှင်သို့ လျှောက်ထားနိုင်သည်။

၃။ ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် <u>ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ</u>အဖြစ်ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှါးရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။

လျှို့ဝှက်

၇။ ကျော်ထွေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာစေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင် အန္တရာယ်များ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၈။ ကျော်ထွေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြု နိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ် ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက် ကိုရယူရမည်။

၁၁။ ကျော်ထွေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်း သည်အထိ အရေးယူခြင်းခံရမည်။

၁၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံ ခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် စက်ရုံပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င)အရ နောင်တွင်မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၆(က)/မ-၉၆၁/၂၀၀၆ (နပတ-၂၀၉-၃၁)

ရက်စွဲ၊ ၂၀၀၆ ခုနှစ်၊ မေလ ၇၀ ရက်။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၂၄/ ၂၀၀၆ (အလပ.၁၁၁)။
ရက်စွဲ၊ ၂၀၀၆ ခုနှစ်၊ ဧပြီလ ၃ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ ။ ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက်[Kyaw Htay and Associates Ltd.]မှ ငါးပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် တန်(၂၀၀၀)ဆန့် အအေးခန်းစက်ရုံ လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက်[Kyaw Htay and Associates Ltd.]သည် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ရင်းနှီးမြှုပ်နှံသူ ဦးကျော်ဌေး အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၃ဃ)၊ မြေတိုင်းရပ်ကွက် အမှတ်(၉)၊ စက်မှုဇုန်(၆)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၂.၀၂)ဧက(၈၁၇၄.၆၆ စတုရန်းမီတာ)တွင် ငါးပုစွန် ပြုပြင် ထုတ်လုပ်ခြင်းနှင့် တန်(၂၀၀၀)ဆန့် အအေးခန်း စက်ရုံလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြ လာပါသည်။ ယင်းအဆိုပြုချက်ကို (၂၉-၁၂-၂၀၀၅)နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄၇/၂၀၀၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက် ခွင့်ကို မူအားဖြင့် သဘောတူပြီး ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ (၂၅-၁-၂၀၀၆)နေ့တွင် ကျင်းပသည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/၂၀၀၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ၍ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၃၅၈.၇၆)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် အသုံးပြုရန် လိုအပ်သော ကျပ်(၁၁၇.၇၀)သန်းဖိုးရှိ စက်ပစ္စည်း (၁၈)မျိုးအနက် ကျပ်(၅၇.၇၀)သန်းဖိုးရှိ စက်ပစ္စည်း (၁၅)မျိုးကို ပြည်တွင်း ကုမ္ပဏီဖြစ်သော Ruby Consulting and Trading Co., Ltd. ထံမှဝယ်ယူပြီးကြောင်း အရောင်းအဝယ်စာချုပ်၊ သွင်းကုန်ကြေငြာလွှာ ( ID) နှင့် သွင်းကုန်လိုင်စင်တို့ကို တင်ပြထားပါသည်။

၃။ အဆိုပြု လုပ်ငန်းမှ ငါး၊ပုစွန် ကုန်ချော အားလုံးကို ပြည်ပသို့ တင်ပို့မည် ဖြစ်ပြီး ပြည်တွင်းတွင် ဝန်ဆောင်မှု လုပ်ငန်း အဖြစ် ငါး၊ပုစွန် အေးခဲခြင်း လုပ်ငန်း လုပ်ကိုင်မည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | အမျိုးအမည် | ထုတ်လုပ်မှု/<br>ဝန်ဆောင်မှု<br>(မက်ထရစ်တန်) |
|---|---|---|---|
| ၁ | | ထုတ်လုပ်မှု | |
| | ၁။ | Sea Water Prawn | ၃၄၂ |
| | ၂။ | Pink Prawn | ၃၂၅ |
| | ၃။ | Tiger Prawn | ၃၀၈ |
| | ၄။ | White Prawn | ၃၀၈ |
| | ၅။ | Fresh Water Prawn | ၃၀၈ |
| | ၆။ | Fresh Water Fish | ၂၇၃ |
| | ၇။ | Sea Water Fish | ၂၉၁ |
| ၂ | | ဝန်ဆောင်မှု | |
| | ၁။ | Processing & Cold Storage | ၁၅၁၆၄၀ |

(ပုံမှန်နှစ်တွင် လုပ်ငန်းမှ ထွက်ရှိလာသည့် ဘေးထွက်ပစ္စည်း (ပုစွန်ခေါင်း) (၄၉၁၂) ပိဿာကို တစ်ပိဿာလျှင် (၁၇၀၀)ကျပ်ဖြင့် ရောင်းချမည်ဖြစ်ပြီး၊ လုပ်ငန်းတွင် သုံးစွဲရန် အတွက် (၃၀၀)ပေါင် ရေခဲ(၁၅၀၀၀)တုံး ထုတ်လုပ်မည် ဖြစ်ပါသည်။)

၄။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) (၂၄.၀၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ | ၁.၈၂ သန်း |
| | | ကျပ် | ၂၁.၄၈ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၁.၃၅ သန်း |

၆။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း(၃၂၀)ဦး၊ ပြည်ပမှ ဝန်ထမ်း(၂)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၇။ လုပ်ငန်းအတွက် လိုအပ်သော လျှပ်စစ်ဓါတ်အားကို လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ ဖြန့်ဖြူးပေးနိုင်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

၈။ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ အဆိုပြု မြေကွက်အား စိစစ်ရာ (၂၂၅′×၂၇၀′×၂၁၀′)ရှိ (U) ပုံသဏ္ဍာန် စက်ရုံအဆောက်အအုံ (၁)လုံး အကြမ်းထည်ဆောက်လုပ်ပြီးစီး၍ အချောသတ် လုပ်ငန်းများ လုပ်ကိုင်နေ ကြောင်းနှင့် (၂၀′×၉၅′)ရှိ (၃)ထပ် ရုံးခန်း၊ စတိုခန်း၊ စားသောက်ခန်း အဆောက်အအုံ (၁)လုံး ဆောက်လုပ်ဆဲ ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်နေခြင်း မရှိသေးကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း သဘောထား ပြန်ကြားလာပါသည်။

၉။ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနမှ လုပ်ငန်း အဆိုပြုချက်အပေါ် ကန့်ကွက်ရန် မရှိပါကြောင်းနှင့် ခွင့်ပြုသင့်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

၁၀။ ကုန်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာနမှ သွင်းကုန်လိုင်စင်ဖြင့် တင်သွင်းခွင့် ပြုထားသော Cold Store Equipment (၁၅)မျိုးမှာ Normal L/C စနစ်နှင့် ပို့ကုန်ရငွေဖြင့် တင်သွင်းခွင့်ပြုထားခြင်း ဖြစ်ကြောင်း ပြန်ကြားထားပါသည်။

၁၁။ အကောက်ခွန်ဦးစီးဌာနမှ ကုမ္ပဏီသည် Ruby Consulting and Trading Co., Ltd. မှ ဝယ်ယူခဲ့သော ပစ္စည်းများနှင့် စပ်လျဉ်း၍ သွင်းကုန်ကြေငြာလွှာ(၂)စောင်အား စိစစ်ရာတင်သွင်းစဉ်က ကျသင့်သော အခွန်အခများ ပေးဆောင်ခဲ့သည်မှာ မှန်ကန်ပါကြောင်းနှင့် ပေးဆောင်ခဲ့သည့် အခွန်အခများမှာ သွင်းကုန်ခွန် ကျပ်(၂.၅၇)သိန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၅၁.၉၈)သိန်းတို့ဖြစ်ကြောင်း ပြန်ကြားထားပါသည်။

၁၂။ ယင်းလုပ်ငန်း အဆိုပြုချက် တင်ပြစဉ်က ငွေကြေးအထောက်အထားအဖြစ် ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက်အမည်ဖြင့် ထားရှိသော ကမ္ဘောဇဘဏ် လီမိတက်ရှိ (၁၄-၉-၂၀၀၅)နေ့ ငွေလက်ကျန် ကျပ်(၁၄၃.၅၅)သန်းနှင့် မြန်မာ့မွေးမြူရေးနှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ် လီမိတက်ရှိ (၂၂-၈-၂၀၀၅)နေ့ ငွေလက်ကျန် ကျပ်(၂၂.၇၂)သန်း၊ စုစုပေါင်း ကျပ်(၁၆၆.၂၇)သန်း တင်ပြထားရာ ပြည်တွင်းသုံးစွဲမည့် ငွေကျပ်(၁၃၈.၈၂)သန်းအတွက် ငွေကြေးလုံလောက်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၃။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုများနှင့် ပတ်သက်၍ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် Waste Water Treatment Plant တပ်ဆင် အသုံးပြုမည် ဖြစ်ကြောင်း၊ စက်ရုံတွင် အန္တရာယ်ကင်းရှင်းစေသော အမိုးနီးယားဓါတ်ငွေ့သုံး ခေတ်မီစက်အသစ်များ သုံးစွဲမည်ဖြစ်ကြောင်း ဝန်ခံကတိများ ပြုထားပါသည်။

၁၄။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂နှင့် ၁၃ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေ ပုဒ်မ ၁၂အရ စီးပွားရေးလုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေ ပုဒ်မ ၁၃မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ရရန် ကော်မရှင်သို့ လျှောက်ထားရမည်ဖြစ်ပါသည်။

၁၅။ ဆုံးဖြတ်ရန်အချက်

(က) ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် [Kyaw Htay and Associates Ltd.]မှ ငါးပုစွန် ပြုပြင် ထုတ်လုပ်ခြင်းနှင့် တန်(၂၀၀၀)ဆန့် အအေးခန်း စက်ရုံ လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂အရ စီးပွားရေးလုပ်ငန်း စတင် သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြု ရန် သဘောတူ–မတူ။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )
ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။
ဝန်ကြီး၊ အလုပ်သမား ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

၁၅။ ဆုံးဖြတ်ရန်အချက်

(က) ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် [Kyaw Htay and Associates Ltd.]မှ ငါးပုစွန် ပြုပြင် ထုတ်လုပ်ခြင်းနှင့် တန်(၂၀၀၀)ဆန့် အအေးခန်း စက်ရုံ လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂အရ စီးပွားရေးလုပ်ငန်း စတင် သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြု ရန် သဘောတူ–မတူ။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။
ဝန်ကြီး၊ အလုပ်သမား ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ကျော်ဌေးနှင့်ရောင်းရင်းများ လီမိတက် [Kyaw Htay and Associates Ltd ] | ၁။ ဦးကျော်ဌေး (အုပ်ချုပ်မှု ဒါရိုက်တာ)<br>၂။ ဒေါ်အေးအေးမော် (ဒါရိုက်တာ)<br>၃။ ဦးစန်းဝင်း (ဒါရိုက်တာ)<br>၄။ ဦးဇော်မင်းဦး (ဒါရိုက်တာ)<br>၅။ ဒေါ်စန္ဒာ (ဒါရိုက်တာ) | အမှတ်(၃၉)၊ ၁၁-လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ်(၃၇)၊ ၁၁-လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ်(၃၃)၊ ၂၂-လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ်-၂၀(သ)၊ မဉ္ဇူလမ်းသွယ်(၄)၊ ပါရမီ၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ်-၆၃(I)၊ နတ်မောက်လမ်း၊ လမ်းသွယ်(၁)လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီ၏တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | Tel - 951-224325, 224379, Fax: 951-228289 |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - | အမှတ်(၃၉)၊ ၁၁-လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဦးကျော်ဌေး (အုပ်ချုပ်မှု ဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | ငါးပုစွန် ပြုပြင် ထုတ်လုပ်မှုနှင့် တန်(၂၀၀၀) ဆန့် အအေးခန်း စက်ရုံ လုပ်ငန်း။ |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ | - | ၁၃၇၂/၁၉၉၇-၉၈(၂၅-၁၁-၉၇) |
| ၆။ | ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် | - | ကမ္ဘောဇဘဏ် လီမိတက်၊ စာရင်းအမှတ်-0041130001541၊ မြန်မာ့မွေးမြူရေးနှင့် ရေလုပ်ငန်း ဖွံ့ဖြိုးရေးဘဏ် လီမိတက်၊ စာရင်းအမှတ်-K-176-0011130002666 |

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၅။ အလုပ်သမား ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၈။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ ပြည်ထဲရေး ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ကျော်ဌေးနှင့် ရောင်းရင်းများ လီမိတက် (Kyaw Htay & Associates Ltd.)။